# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရကာ-၁/မ-၁၂၆၁/၂၀၀၁ (၃၆၆၆)။
ရက်စွဲ၊ ၂၀၀၁ ခုနှစ်၊ ဇူလိုင်လ ၆ ရက်။

ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ တင်ပြသည့်
အမှာစာ

အကြောင်းအရာ။ ဘူးဂါး ကုမ္ပဏီ လီမိတက် မှ တဘက်ချောင်း ရေအားလျှပ်စစ် စက်ရုံတည်ဆောက်၍ ရေအားလျှပ်စစ် ထုတ်လုပ်ဖြန့်ဖြူးခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော ဘူးဂါး ကုမ္ပဏီ လီမိတက် (Bu Ga Co., Ltd.) မှ တဘက်ချောင်း ရေအားလျှပ်စစ် စက်ရုံတည်ဆောက်၍ ရေအားလျှပ်စစ် ထုတ်လုပ်ဖြန့်ဖြူးခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြု တင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၂၅-၅-၂၀၀၁)နေ့တွင် ကျင်းပ ပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၆/၂၀၀၁) အစည်းအဝေးသို့ တင်ပြခဲ့ရာ မူအားဖြင့် သဘောတူပြီး ဓာတ်အားလျှပ်စစ်ဝန်ကြီးဌာနမှ ... ၎င်း ... (မူကြမ်း) တင်ပြလာပါက ကုန်သွယ်မှု မူဝါဒကောင်စီ အစည်းအဝေးသို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။ ယင်းဆုံးဖြတ်ချက်အရ ယခုအခါ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ မြစ်ကြီးနားမြို့နယ်နှင့် ဝိုင်းမော်မြို့နယ်များတွင် မြန်မာ့ လျှပ်စစ်ဓါတ်အားလုပ်ငန်းကိုယ်စား ဓါတ်အား ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း ပဋိညာဉ်စာချုပ် (မူကြမ်း)နှင့် ရှေ့နေချုပ်ရုံး သဘောထားမှတ်ချက်များ တင်ပြလာသဖြင့် ကုန်သွယ်မှု မူဝါဒ ကောင်စီ အစည်းအဝေးသို့ ဆက်လက် တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ရှေ့ဆိုင်းငွေပေးချေခြင်းစနစ် သဘောတူစာချုပ် (မူကြမ်း)၊ ဓါတ်အား ထုတ်လုပ်ဖြန့်ဖြူးရောင်း ချခြင်း ပဋိညာဉ်စာချုပ် (မူကြမ်း)နှင့် ရှေ့နေချုပ်ရုံး သဘောထားမှတ်ချက်တို့ကို နောက်ဆက်တွဲ(၁) အဖြစ် တင်ပြထားပါသည်။

၂။ ယင်းလုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ (၁၇.၅၇)သန်း အပါအဝင် စုစုပေါင်း ကျပ် (၂၁၈၂.၄၂)သန်း ဖြစ်ပါသည်။ ယင်းတွင်ငွေသား ကျပ် (၁၀.၀၀)သန်း၊ တည်ဆောက်မှု စရိတ်ကျပ် (၂၀၆၇.၀၀)သန်းနှင့် စက်ပစ္စည်းကိရိယာ တန်ဖိုး ကျပ် (၁၀၅.၄၂)သန်း {အမေရိကန်ဒေါ်လာ (၁၇.၅၇)သန်း} ထည့်ဝင် ရင်းနှီးမည် ဖြစ်ပါသည်။ စက်ပစ္စည်းနှင့် လုပ်ငန်းသုံးပစ္စည်းများကို မလေးရှားနိုင်ငံ TSB & SONS HOLDINGS Sdn Bhd. မှရှေ့ဆိုင်းငွေပေးချေခြင်း စနစ်ဖြင့် ရယူမည်ဖြစ်ပါသည်။ ထိုသို့ ရယူရာတွင် တည်ဆောက်မှုကာလ (၄)နှစ်အတွင်း ရယူမှုများ အပေါ်တွင် အတိုးမဲ့ ထားရှိမည်ဖြစ်ပြီး ထုတ်လုပ်မှု စတင်မှသာ တစ်နှစ်လျှင် အတိုးနှုန်း (၈)ရာခိုင်နှုန်းဖြင့် (၁၀)နှစ် ပြန်လည်ပေးဆပ်မည် ဖြစ်ပါသည်။ ချေးငွေကို ပြန်လည်ပေးဆပ်ရာတွင် ကုမ္ပဏီပိုင် သစ်အခြေခံ တန်ဖိုးမြှင့် ကုန်ချောပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်း၊ ကျောက်မျက် တူးဖော်ခြင်းလုပ်ငန်းနှင့် တိုးချဲ့လုပ်ကိုင်မည့် လုပ်ငန်းများမှ ရရှိမည့် နိုင်ငံခြားငွေများဖြင့် ပေးဆပ်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၃။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန် အတွက် တဘက်ချောင်း ရေအားလျှပ်စစ် စက်ရုံကို ဝိုင်းမော်မြို့နယ်၊ ဖော့ဒေါ်ကျေးရွာ၊ ကွင်းအမှတ် OSS၊ ဦးပိုင်အမှတ် N၁ ရှိ လန(၃၉) မြေ (၅.၃၃) ဧက (၂၁၅၆၉.၇၆ စတုရန်းမီတာ)တွင် တည်ဆောက်မည်ဖြစ်ပြီး မြစ်ကြီးနား မြို့နယ်နှင့် ဝိုင်းမော်မြို့နယ်များသို့ လျှပ်စစ်ဓါတ်အား ဖြန့်ဖြူးမည် ဖြစ်ပါသည်။ ဓါတ်အားပေးစက်ရုံမှ မြစ်ကြီးနားမြို့နှင့် ဝိုင်းမော်မြို့အထိ (၄၅)မိုင် ဓါတ်အားလိုင်း သွယ်တန်းခွင့် ပြုမည်ဖြစ်ပြီး အများဆုံး ထုတ်လုပ်ခွင့် ပြုသည့် ဓါတ်အား ပမာဏမှာ (၂၄) မဂ္ဂါဝပ် ဖြစ်ပါသည်။

၄။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန၊ မြန်မာ့လျှပ်စစ်ဓါတ်အား လုပ်ငန်းနှင့် ဘူးဂါး ကုမ္ပဏီ လီမိတက်တို့ ချုပ်ဆိုမည့် မြစ်ကြီးနားမြို့နယ်နှင့် ဝိုင်းမော်မြို့နယ်များတွင် မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်း၏ ကိုယ်စား ဓါတ်အား ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း ပဋိညာဉ် စာချုပ် (မူကြမ်း) ပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) လုပ်ငန်းဆောင်ရွက်ရန် ကာလမှာ စာချုပ် လက်မှတ် ရေးထိုးသည့်နေ့မှ (၂၀)နှစ် ဖြစ်ပြီး ဆက်လက်လုပ်ကိုင် လိုပါက နှစ်ဦးနှစ်ဖက် သဘောတူညီချက်ဖြင့် တစ်ကြိမ်လျှင် (၅)နှစ်ဖြင့် (၂) ကြိမ်ထိ တိုးမြှင့်ဆောင်ရွက်နိုင်သည်၊

(ခ) မြစ်ကြီးနားမြို့နယ်နှင့် ဝိုင်းမော်မြို့နယ်များရှိ မြန်မာ့လျှပ်စစ် ဓါတ်အားလုပ်ငန်းမှ လက်ရှိ ပိုင်ဆိုင်သော မြေများ၊ အဆောက်အဦများ၊ စက်ပစ္စည်းကိရိယာများ၊ ယာဉ်များ၊ ဓါတ်အား လိုင်းများ၊ တရန်စဖော်မာများ၊ မီတာများနှင့် အခြားပစ္စည်းများအားလုံးအနက် ဘူးဂါး ကုမ္ပဏီ လီမိတက်မှ ဆက်လက် အသုံးပြုလိုသည့် ပစ္စည်းများကို တန်ဖိုးသတ်မှတ်၍ ပစ္စည်းလွှဲ ပြောင်းပေးရေးအဖွဲ့ဖြင့် စာချုပ်ချုပ် ဆိုပြီးသည့် နေ့မှ တစ်လအတွင်း မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်းမှ လွှဲပြောင်းပေးရမည်။ ယင်းသို့ လွှဲပြောင်းခြင်းသည် လုပ်ငန်းများ ဆက်လက် ဆောင်ရွက်နိုင်ရန်အတွက်သာဖြစ်၍ ပစ္စည်း ပိုင်ဆိုင်ခွင့်နှင့် သက်ဆိုင်ခြင်း မရှိစေရပါ၊

(ဂ) မြစ်ကြီးနားမြို့နယ်နှင့် ဝိုင်းမော်မြို့နယ်များတွင် ဓါတ်အားထုတ်လုပ် ဖြန့်ဖြူးရောင်းချရေး အတွက် ထပ်မံလိုအပ်သော စက်ကိရိယာပစ္စည်းများကို ထပ်မံဝယ်ယူခြင်း ၊ တိုးချဲ့တည် ဆောက်ခြင်းတို့ကို ဘူးဂါး ကုမ္ပဏီ လီမိတက်မှ ဆောင်ရွက်ရာတွင် မြန်မာ့လျှပ်စစ်ဓါတ်အား လုပ်ငန်းသို့ ကြိုတင်အသိပေးညှိနှိုင်း ဆောင်ရွက် ရမည် ဖြစ်ပါသည်၊

(ဃ) ဘူးဂါး ကုမ္ပဏီ လီမိတက်သည် မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်း၏ အမည်နာမနှင့် ရပိုင် ခွင့်များ သုံးစွဲမှုအတွက် Royalty အဖြစ် တစ်ယူနစ်လျှင် (၃.၀၀) ကျပ်နှုန်းဖြင့် စုစုပေါင်း ထုတ်လုပ်မှု ယူနစ်အပေါ်တွင် လည်းကောင်း၊ မီတာထိန်းသိမ်း စောင့်ရှောက်ခများကို လည်းကောင်း၊ ဓါတ်အားသုံးစွဲသူများ ထံမှ ဘူးဂါး ကုမ္ပဏီ လီမိတက်က လျှပ်စစ်ဓါတ်အားခ ကောင်းခံသည့် လ၏ နောက်လမကုန်မီ မြန်မာ့လျှပ်စစ် ဓါတ်အားလုပ်ငန်း သို့ပေးဆောင် ရမည် ဖြစ်ပါသည်။ Royalty နှုန်းကို ဘူးဂါး ကုမ္ပဏီ လီမိတက်၏ အကျိုးအမြတ် ရရှိမှု အပေါ်အခြေခံ၍ နှစ်ဖက်ညှိနှိုင်း ပြင်ဆင်သတ်မှတ်နိုင်သည်။

(င) မြစ်ကြီးနားမြို့နယ်နှင့် ဝိုင်းမော်မြို့နယ် လျှပ်စစ်ရုံများတွင် တာဝန်ထမ်းဆောင်လျက်ရှိသော မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်း ဝန်ထမ်းများမှ ဆန္ဒပြုသူ အများစုကို ဘူးဂါး ကုမ္ပဏီ လီမိတက်မှ ဆက်လက် အသုံးပြုရန် သဘောတူသည်။ ဘူးဂါး ကုမ္ပဏီ လီမိတက်မှ လွှဲပြောင်းယူသော ဝန်ထမ်းများ၏ ရာထူးပိုင်ဆိုင်ခွင့် (Lien) ကို မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်း၌ (၃)နှစ်ဆက်လက် တည်ရှိစေရမည်။ မြန်မာ့ လျှပ်စစ်ဓါတ်အားလုပ်ငန်းမှ ခံစားခွင့်ပြုထားသည့် လစာ၊ စရိတ်များနှင့် အခြားခံစားခွင့်များကို လွှဲပြောင်းပေးသည့် နေ့မှစ၍ ဆက်လက်ခံစားပိုင်ခွင့် မရှိစေရပါ။

(စ) လုပ်ငန်း ခွင့်ပြုသည့်ကာလ ကုန်ဆုံးပြီးသည့်နေ့မှ (၄)လအတွင်း ဘူးဂါး ကုမ္ပဏီ လီမိတက်သည် မိမိပိုင်ပစ္စည်းကိရိယာများနှင့် မြန်မာ့ လျှပ်စစ်ဓါတ်အားလုပ်ငန်းမှ လွှဲပြောင်းရယူထားသော ပစ္စည်းကိရိယာများကို ကောင်းမွန်သော အနေထားဖြင့် မြန်မာ့ လျှပ်စစ်ဓါတ်အားလုပ်ငန်းသို့ စနစ်တကျ ပြန်လည်လွှဲပြောင်းပေးရမည်။ ဘူးဂါး ကုမ္ပဏီ လီမိတက်မှ ပေးရန်တာဝန်များနှင့် ပတ်သက်၍ မြန်မာ့ လျှပ်စစ်ဓါတ်အားလုပ်ငန်းတွင် တာဝန်မရှိစေရပါ။

(ဆ) လုပ်ငန်းဆောင်ရွက်မှုများကို ကြီးကြပ်နိုင်ရန်အတွက် မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်းမှ ကိုယ်စားလှယ် (၃)ဦး၊ ဘူးဂါး ကုမ္ပဏီ လီမိတက်မှ ကိုယ်စားလှယ် (၃)ဦး ပါဝင်သော ကြီးကြပ်ကွပ်ကဲရေး အဖွဲ့ ဖွဲ့စည်းကာ လိုအပ်သော လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များ ထုတ်ပြန်၍ ကြီးကြပ် ကွပ်ကဲသွားရမည်။ စာချုပ်အတွင်း မပါရှိသော ကိစ္စရပ်များရှိပါက ကြီးကြပ်ကွပ်ကဲရေးအဖွဲ့ နှင့် ညှိနှိုင်းဆောင်ရွက်ရမည် ဖြစ်ပါသည်။

၅။ ယင်းလုပ်ငန်းဆောင်ရွက်ရာတွင် အများဆုံးထုတ်လုပ်ရမည့် ဓါတ်အားပမာဏမှာ (၂၄) မဂ္ဂါဝပ်ဖြစ်ပါသည်။ ပုံမှန်နှစ်တွင် ဓါတ်အားပမာဏ ကီလိုဝပ်နာရီ သန်းပေါင်း (၁၁၅) ထုတ်လုပ်မည်ဖြစ်ပြီး၊ သုံးစွဲနိုင်မည့် ဓါတ်အား ပမာဏမှာ ကီလိုဝပ်နာရီ သန်းပေါင်း (၉၀)ဖြစ်ကြောင်း ခန့်မှန်းဖော်ပြထားပါသည်။ ပုံမှန်နှစ်တွင် သုံးစွဲမည့် ဓါတ်အား ပမာဏနှင့် ကောက်ခံမည့် ဓါတ်အားခနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

| စဉ် | အကြောင်းအရာ | သုံးစွဲမည့် ဓါတ်အား ပမာဏ (ကီလိုဝပ်နာရီ သန်းပေါင်း) | ဓါတ်အားခနှုန်း (ကျပ်/တစ်ယူနစ်) |
|---|---|---|---|
| ၁။ | အစိုးရဌာန | ၆.၆၆ | ၀.၅၀ |
| ၂။ | အများပြည်သူ | ၃၀.၂၀ | ၁၀.၀၀ |
| ၃။ | ဝန်ထမ်းနှင့်အငြိမ်းစား | ၁.၁၄ | ၂.၈၀ |
| ၄။ | စီးပွားရေးနှင့် စက်မှုလက်မှု လုပ်ငန်းသုံး | ၅၂.၀၀ | ၃၂.၀၀ |
| | စုစုပေါင်း | ၉၀.၀၀ | |

(အစိုးရဌာနနှုန်းသည် လက်ရှိ မြန်မာ့ လျှပ်စစ်ဓါတ်အားလုပ်ငန်းမှ ကောက်ခံသည့် နှုန်းဖြစ်ပြီး အများပြည်သူ၊ ဝန်ထမ်းနှင့် အငြိမ်းစားနှုန်းတို့သည် လက်ရှိ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်းမှ နှုန်းထားများအား ပျမ်းမျှယူထားခြင်း ဖြစ်ပါသည်။ စီးပွားရေးလုပ်ငန်းများနှင့် တစ်လလျှင် ယူနစ် (၂၀၀) အထက် သုံးစွဲသော

အများပြည်သူ၊ ဝန်ထမ်းနှင့် အငြိမ်းစားများအား (၃၂)ကျပ်နှုန်းဖြင့် ကောက်ခံသွားမည် ဖြစ်ပါသည်။ မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်းမှ အခါအားလျော်စွာ မီတာခနှုန်းထား သစ်များ ပြောင်းလဲပါက ယင်းအတိုင်း ကောက်ခံသွားမည် ဖြစ်ပါသည်။)

၆။ ယင်းလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်–

| | | (ကျပ်သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၁၉၇၁.၆၁ |
| (ခ) | အသုံးစရိတ် | ၁၇၁၉.၆၂ |
| (ဂ) | အသားတင်အမြတ် | ၂၅၁.၉၉ |

၇။ ယင်းလုပ်ငန်း၏ အရင်းကြေကာလမှာ (၄)နှစ်နှင့် (၈)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၁၉.၂၆)ရာခိုင်နှုန်း ဖြစ်ပါသည်။

၈။ ယင်းလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

| | | |
|---|---|---|
| (က) | ဝင်ငွေခွန် | ကျပ် ၁၁၇.၅၁ သန်း |
| (ခ) | ကုန်သွယ်လုပ်ငန်းခွန် | ကျပ် ၃၀.၇၆ သန်း |
| (ဂ) | မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်းမှ Royalty ရငွေ | ကျပ် ၃၄၅.၀၀ သန်း |

၉။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း (၇၇)ဦး နှင့် ပြည်ပမှ ဝန်ထမ်း (၃)ဦး ခန့်ထား ဆောင်ရွက်မည် ဖြစ်ပါသည်။

၁၀။ ယင်းလုပ်ငန်းသည် နိုင်ငံတော်ပိုင် စီးပွားရေးလုပ်ငန်းများ ဥပဒေပုဒ်မ (၃)တွင် အကျုံးဝင်သည့် လုပ်ငန်းဖြစ်သောကြောင့် နိုင်ငံတော်အကျိုးအတွက် လုပ်ကိုင်ဆောင်ရွက်မည်ဆိုလျှင် ယင်းဥပဒေ ပုဒ်မ (၄) အရ လုပ်ငန်းဆောင်ရွက်ခွင့်ကို အစိုးရအဖွဲ့သို့ တင်ပြပြီးသည့်အခါ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ အမိန့်ကြော်ငြာစာဖြင့် ထုတ်ပြန်ဆောင်ရွက်ခွင့်ပြုရန် ဖြစ်ပါသည်။

၁၁။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး၊ နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ နိုင်ငံတော် အစိုးရမှ လျှပ်စစ်လုပ်ငန်းနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ်ချက်များ၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်း၊ ချေးငွေရယူခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်း မရှိဘဲ ပြန်လည်ပေးဆပ်ရာတွင်လည်း ဘူးဂါး ကုမ္ပဏီ လီမိတက်ပိုင် လုပ်ငန်းများမှ ရရှိမည့် တရားဝင် နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်မည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု နှင့် မီးဘေးအန္တရာယ်များ မဖြစ်ပွားစေရန် အတွက် လိုအပ်သော အစီအမံများ ကြိုတင် ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်း၊ လုပ်ငန်းအသစ် ဖြစ်ကြောင်း ဝန်ခံကတိ ပြုထားပါသည်။

၁၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပေးရမည် ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များအနက် လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် ကော်မရှင်မှ ညှိနှိုင်း ဆုံးဖြတ်ခဲ့ ပါသည်။

၁၃။ ဆုံးဖြတ်ရန်အချက်။

(က) ဘူးဂါး ကုမ္ပဏီ လီမိတက်မှ တဘက်ချောင်း ရေအားလျှပ်စစ် စက်ရုံတည်ဆောက်၍ ရေအားလျှပ်စစ် ထုတ်လုပ်ဖြန့်ဖြူးခြင်း လုပ်ငန်း ဆောင်ရွက် ရန် အဆိုပြု တင်ပြခြင်းကို ခွင့်ပြုရန် သဘောတူ-မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ-မတူ။

၁၄။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ထောက်ခံချက်။

ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ ဆုံးဖြတ်ချက်ကို နာခံအပ်ပါသည်။

ဥက္ကဋ္ဌ ( ကိုယ်စား )
( ဗိုလ်ချုပ် တင်ထွတ်၊ ဒုတိယ ဥက္ကဋ္ဌ )
ဝန်ကြီး၊ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။

ကုန်သွယ်မှု မူဝါဒ ကောင်စီ။

ကုမ္ပဏီ ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏ အမည် | ဒါရိုက်တာ/အစုရှင်များ၏ လိပ်စာ |
|---|---|---|---|
| ၁။ | ဘူးဂါး ကုမ္ပဏီ လီမိတက်<br>(Bu Ga Co., Ltd.) | ၁။ ဒေါက်တာ လဂျာ<br>(အုပ်ချုပ်မှု ဒါရိုက်တာ)<br>၂။ ဦးဇောင်းခေါင်<br>(ဒါရိုက်တာ) | အမှတ် (၄၄၅)၊ ယုဇနရပ်ကွက်၊ မြစ်ကြီးနားမြို့နယ်။<br>အမှတ် (၂၇၄)၊ ကျွန်းပင်သာရပ်ကွက်၊ မြစ်ကြီးနားမြို့နယ်။ |

## လုပ်ငန်း စီမံကိန်း အဆိုပြုချက်၏အဓိကအချက်များ

## (မြန်မာနိုင်ငံသား များ ရင်း နှီး မြှုပ်နှံမှုဥပဒေအရ)

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | ဘူးဂါး ကုမ္ပဏီလီမိတက်<br>(Bu Ga Co., Ltd.)<br><br>(၁၆-၂-၉၅ နေ့တွင်ကုမ္ပဏီမှတ်ပုံတင်ပြီး) |
| ၂။ | လုပ်ငန်း အဆိုပြုသူအမည် | ဒေါက်တာသလဂျာ |
| ၃။ | အဆိုပြုလုပ်ငန်း အမျိုး အစား | ရေအားလျှပ်စစ်ထုတ်လုပ်ဖြန့်ဖြူး ခြင်း လုပ်ငန်း |
| ၄။ | ရင်း နှီး မြှုပ်နှံမည့် ဒေသ | ဝိုင်း မော်မြို့နယ်နှင့်မြစ်ကြီး နား မြို့နယ်၊<br>ကချင်ပြည်နယ်။ |
| ၅။ | စုစု ပေါင်းရင်းနှီးမြှုပ်နှံမှု | ကျပ် ၂၁၈၂.၄၂ သန်း (US$ ၁၇.၅၇ သန်းအပါအဝင်) |
| | - ငွေပမာဏ | ကျပ် ၁၀.၀၀ သန်း |
| | - တည်ဆောက်မှုစရိတ် | ကျပ် ၂၀၆၇.၀၀ သန်း |
| | - စက်ပစ္စည်းကိရိယာ | ကျပ် ၁၀၅.၄၂ သန်း ( US$ ၁၇.၅၇ သန်း ) |
| ၆။ | ဓါတ်အား ပေးစက်ရုံတည် ဆောက်မည့် ဒေသ | တဘက် ချောင်း ရေအားလျှပ်စစ်စက်ရုံ<br>( မြစ်ကြီး နားမြို့၏ တောင်ဘက်ကဇူးယန် ကျေးရွာအနီး တွင်တည် ဆောက်မည်ဖြစ်ပါသည်။ ) |
| ၇။ | ဓါတ်အား ပေးရမည့်နယ်နမိတ်အထိ သွယ်တန်းရန်ခွင့်ပြုသည့်ဓါတ်အား လိုင်း | ဓါတ်အား ပေးစက်ရုံမှ ဝိုင်း မော်မြို့နှင့်မြစ်ကြီး နား မြို့အထိအရှည်( ၄၅ ) မိုင် |
| ၈။ | ဆောင်ရွက်ခွင့်ပြုသည့်အများဆုံး ထုတ်လုပ်ရမည့်ဓါတ်အားပမာဏ | ( ၂၄ ) မဂ္ဂါဝပ် |
| ၉။ | လုပ်ငန်း ဆောင်ရွက်မည့်ကာလ | ကနဦး( ၂၀ ) နှစ်နှင့် နောက်ထပ်( ၅ ) နှစ်( ၂ ) ကြိမ် |
| ၁၀။ | ပုံမှန်နှစ်တွင်ထုတ်လုပ်နိုင်မည့် ဓါတ်အား ပမာဏ | ကီလိုဝပ်သန်း ပေါင်း ၁၁၅ |
| ၁၁။ | ပုံမှန်နှစ်တွင်သုံးစွဲမည့်ဓါတ်အား ပမာဏ | ။ ၉၀ |
| ၁၂။ | ဓါတ်အားဖြန့်ဝေမှုစနစ် | ကျပ် ငွေဖြင့် ၁၀၀ % |

| | | |
|---|---|---|
| ၁၃။ | ကောက်ခံမည့်ဓါတ်အား ခနှုန်း | ကျပ် / တစ်ယူနစ် |
| | - အစိုးရဌာန | ၀.၅၀ |
| | - အများပြည်သူများ | ၁၀.၀၀ (ယူနစ် ၂၀၀ ထိ) |
| | - ဝန်ထမ်းနှင့်အငြိမ်းစား | ၂.၀၀ (ယူနစ် ၂၀၀ ထိ) |
| | - စီးပွားရေးနှင့်စက်မှုလက်မှု လုပ်ငန်းများ | ၃၂.၀၀ |
| | | (အစိုးရဌာနနှုန်းသည်လက်ရှိမြန်မာ့လျှပ်စစ်လုပ်ငန်းမှ ကောက်ခံသည့်နှုန်းဖြစ်ပြီး အများပြည်သူတစ်ယူနစ် ၁၀/- နှုန်း နှင့်ဝန်ထမ်း၊ အငြိမ်းစားတစ်ယူနစ် ၂/- နှုန်း တို့သည်လက်ရှိမြန်မာ့လျှပ်စစ်လုပ်ငန်းမှ နှုန်းထားများအားမွမ်းမံယူထားခြင်းဖြစ်ပါသည်။ ယူနစ် ၂၀၀ အထက်သုံးစွဲပါက ၃၂ ကျပ်နှုန်း ကောက်ခံပါသည်) |
| ၁၄။ | ဝင်ငွေ (ပုံမှန်နှစ်) | ကျပ် ၁၉၇၁.၆၁ သန်း |
| ၁၅။ | အသားတင်အမြတ် / အရှုံး (ပုံမှန်နှစ်) | |
| | - ကျပ်ငွေဖြင့် | ကျပ် ၂၇၄.၂၀ သန်း |
| | - နိုင်ငံခြားငွေဖြင့် | (-)US$ ၃.၇၀ သန်း |
| ၁၆။ | အရင်းကျေကာလ | (၄) နှစ် နှင့် (၈) လ |
| ၁၇။ | အရင်းအနှီးအပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း ( IRR ) | (၁၉.၂၆) ရာခိုင်နှုန်း |
| ၁၈။ | နိုင်ငံတော်မှပုံမှန်နှစ်တွင်ရရှိမည့် အကျိုးအမြတ် | |
| | - ဝင်ငွေခွန် (ကျပ်ငွေဖြင့်) | ကျပ် ၁၁၇.၅၁ သန်း |
| | - ကုန်သွယ်လုပ်ငန်းခွန် (စီးပွားရေးလုပ်ငန်းများဝင်ငွေမှအပကျန် ဝင်ငွေအပေါ်တွင် ၁၀ %) | ကျပ် ၃၀.၇၆ သန်း |
| | - မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်းသို့ ပေးသွင်းရငွေ (ထုတ်လုပ်မှုတစ်ယူနစ်အတွက် ၁/- နှုန်း) | ကျပ် ၃၄၅.၀၀ သန်း |

| | | |
|---|---|---|
| ၁၉။ | ဝန်ထမ်း အင်အား | ၈၀ ဦး |
| | - ပြည်တွင်း | ၇၇ ဦး |
| | - ပြည်ပ | ၃ ဦး |
| ၂၀။ | တည်ဆောက်မှုကာလ | (၄) နှစ် |
| ၂၁။ | အခြား | - စက်ပစ္စည်း နှင့်လုပ်ငန်းသုံးပစ္စည်းများ ကိုမလေး ရှား နိုင်ငံ TSB & SONS HOLDINGS SDN. BHD. - မှ ရှေ့ဆိုင်း ငွေ ပေး ချေစနစ်ဖြင့်ရယူ မည်ဖြစ်ပါသည်။ ထိုသို့ရယူရာတွင်တည် ဆောက်မှုကာလ (၄) နှစ်အတွင်းရယူမှုများအ ပေါ်တွင်အတိုး မဲ့ထား ရှိမည်ဖြစ်ပြီးထုတ်လုပ်မှုစတင်မှသာတစ်နှစ်လျှင် အတိုးနှုန်း (၈) ရာခိုင်နှုန်းဖြင့် (၁၀) နှစ်ပြန် လည် ပေးဆပ်မည်ဖြစ်ပါသည်။ ချေး ငွေကိုပြန်လည်ပေး ဆပ်ရာတွင်ကုမ္ပဏီပိုင်သစ်အ ခြေခံတန်ဖိုးမြှင့်ကုန် ချောပစ္စည်းများထုတ်လုပ်ခြင်းလုပ်ငန်း၊ကျောက်မျက် တူး ဖော်ခြင်းလုပ်ငန်းနှင့်တိုး ချဲ့လုပ်ကိုင်မည့်လုပ် ငန်းများရရှိမည့်နိုင်ငံခြား ငွေများဖြင့် ပေးဆပ် မည်ဖြစ် ကြောင်းတင်ပြထား ပါသည်။<br>- အဆိုပြုလုပ်ငန်းစတင်လည်ပတ်ရာတွင်နှစ်စဉ်ပြုပြင် ထိန်းသိမ်းရန်အတွက်လိုအပ် သောစက်ပစ္စည်းကိရိယာ များအား ပြည်တွင်း၌ရရှိနိုင်ပါကပြည်တွင်းမှပင် ဝယ်ယူမည်ဖြစ်ပြီး မရရှိနိုင် သောစက်ပစ္စည်းကိရိယာ များ ကိုသာပြည်ပမှဝယ်ယူတင်သွင်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ နှစ်စဉ်ပြည်ပမှတင်သွင်းမည့် စက်ပစ္စည်းတန်ဖိုး ကိုသာ ဖော်ပြထားပြီးအမျိုးအ စားကို ဖော်ပြထား ခြင်း မရှိပါ။<br>- တည် ဆောက်မှုကာလအတွင်း တင်သွင်း မည့်စက်ပစ္စည်း စာရင်းကိုပူးတွဲတင်ပြထား ပါသည်။ လုပ်ငန်းတွင် အသုံးပြုရန်လိုအပ်သည့် Mobile Crane 20 Tons |

(၁) စီး၊ Rear Dump Truck (၅) စီး၊ Truck 400 Kg (With Cranes) (၃) စီး တို့ကိုကင်ဆွင်းခွင့်ပြုပါရန်တင်ပြထားပါသည်။

- လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန၊ လျှပ်စစ်စွမ်းအား ဦးစီးဌာနမှ ကချင်အထူးဒေသ(၂)သို့ လျှပ်စစ်ဆိုင်ရာလုပ်ငန်း လုပ်ကိုင်ခွင့် ပြုသည့်စာ ကိုတင်ပြထားပါသည်။ ယင်း စာတွင်လုပ်ငန်း ဆောင် ရွက်မည့်နယ် မြေ ဒေသနှင့်ပတ်သက်၍ ကချင်ပြည်နယ် အေး ချမ်းသာယာ ရေးနှင့်ဖွံ့ဖြိုး ရေးကောင်စီ အလုပ်အမှုဆောင်အဖွဲ့နှင့် မြောက်ပိုင်းတိုင်းစစ် ဌာနချုပ်များသို့တင်ပြ၍ရှင်းရရှိချက်ကိုဝန်ကြီး ဌာနသို့ပြန်လည်တင်ပြရန် ဖော်ပြထားပါသည်။

- **မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်း၏ ဓါတ်အားပေးစနစ်အား ဆက်လက်အသုံးပြုခြင်းအတွက် ဘူးဂါကျာ**[illegible] တက်သည့် ထုတ်လုပ်မှု ၁ယူနစ်အတွက် (၃.၀၀) ကျပ်နှုန်း ပေး ချေမည် ဖြစ်ပါသည်။

- အဆိုပြုစီမံကိန်း သည် ချောင်း ရေစီး ကိုတိုက်ရိုက်အ သုံးပြုသော (run-off the river scheme) စနစ်ဖြစ်၍ တစ်နှစ်ပတ်လုံးနီးပါး (95% of the time) ရေစီးဆင်း လျက်ရှိသော ချောင်း ဖြစ်သဖြင့် Design Head 247ft, Design Discharge 1350 Cusec - ရရှိပြီး၊ တပ်ဆင်စက် အင်အား 24 MW ကို ကောင်းစွာထုတ်လုပ် နိုင် စွမ်း ရှိသည်မှာ မှန်ကန် ကြောင်းလျှပ်စစ်စွမ်းအား ဝန်ကြီး ဌာနမှတင်ပြထား ပါသည်။

- ယင်း လုပ်ငန်း သည်မြန်မာနိုင်ငံသား များ သာ လျှင်ပိုင်ဆိုင်ပြီး နိုင်ငံခြား မှ မည်သူမျှပိုင်ဆိုင်မှု မရှိ ကြောင်း၊ နိုင်ငံ တော်အစိုး ရမှလျှပ်စစ်လုပ် ငန်း နှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်း မည့်စည်းကမ်း

သတ်မှတ်ချက်များ၊ မြေယာနှင့်ပတ်သက်၍သတ်မှတ်ပြဋ္ဌာန်း မည့်ဝည်း ကစ်း သတ်မှတ်ချက်ကိုလိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း၊ ဈေးငွေရယူခြင်းသည်နိုင်ငံတော်နှင့်သက်ဆိုင်ခြင်း မရှိကြောင်းပြန်လည်ပေးဆပ်ရာမှာလည်း ဘူဂါး ကုမ္ပဏီလီမိတက်ပိုင်လုပ်ငန်း များ မှရရှိသည့်တရား ဝင်နိုင်ငံခြားငွေဖြင့်သာ ပေး ဆပ်မည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်ညစ်ညမ်း မှုနှင့်မီး ဘေး အန္တရာယ်မဖြစ်ပွါးစေရန်အတွက်လိုအပ် သောအစီအမံများ ကိုတင်ကာကွယ်မှုများ ပြုလုပ်ထား မည်ဖြစ် ကြောင်း ၊ ဝန်ခံကတိပြုထား ပါသည်။

- ငွေကြေးဆိုင်ရာ ထောက်အထား အဖြစ် ဦးလဂျာနှင့်ဦး သိန်းဂျီးနောင်တို့၏ ဂိုးမဘာက်လီမိတက်ရှိ (၁၀-၁-၉၉) နေ့ ငွေလက်ကျန်ကျပ်(၃,၀၀) သန်း နှင့်ကုမ္ပဏီအမည်ဖြင့် MFTB တွင် ငွေစာရင်း ဖွင့်လှစ်ထား ကြောင်းနှင့်မှန်ကန်စွာ ဆောင်ရွက်နေ သောကုမ္ပဏီဖြစ် ကြောင်း ထောက်ခံစာကိုတင်ပြထား ပါသည်။
- ယင်း အဆိုပြုချက်ကို( ၂၁-၇-၂၀၀၀ ) နေ့တွင်ကျင်း ပခဲ့သည့် ကော်မရှင်၏( ၂၄/၂၀၀၀) အစည်း အဝေး သို့တင်ပြခဲ့ရာအဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း ၍ ထောက်ခံမည့်ရှုန်း ထား နှင့်ပတ်သက်၍လည်း ကောင်း၊ နိုင်ငံ တော်သို့လွှဲ ပြောင်း ပေးမည့်အချိန်ကာလနှင့်ပတ်သက်၍လည်း ကောင်း ၊ လျှပ်စစ်စွမ်း အား ဝန်ကြီး ဌာနမှပြန်လည်စိစစ်ပြီး ကော်မရှင်သို့ပြန်လည်တင်ပြရန်ဆုံး ဖြတ်ခဲ့ပါသည်။ ယခုအခါ ထောက်ခံမည့်ဓါတ်အား ခန့်မှန်းထား နိုင်ငံ တော်သို့လွှဲ ပြောင်း ပေးမည့်အချိန်ကာလနှင့်

အခြား လိုအပ်သည့်အသေး စိတ်အချက်အလက်များ အပေါ် စိစစ်ညှိနှိုင်း ရရှိချက်များကိုလျှပ်စစ်စွမ်းအား ဝန်ကြီး ဌာနမှပြန်လည်တင်ပြလာသဖြင့် ကော်မရှင်သို့တင်ပြခြင်း ဖြစ်ပါသည်။

- လျှပ်စစ်စွမ်းအား ဝန်ကြီး ဌာနမှပြန်လည်တင်ပြရာတွင်လုပ်ငန်း သက်တမ်း အား ဓါတ်အား စတင်ထုတ်လုပ်ဖြန့်ဖြူး သည့် နေ့မှ ကနဦး (၂၀) နှစ်နှင့် နောက်ထပ်( ၅ ) နှစ်( ၂ ) ကြိမ် စုစုပေါင်း(၃၀) နှစ် ဆောင်ရွက်ခွင့်ရရှိရေး အတွက်တင်ပြထားရန် ယင်း ကာလကုန်ဆုံး သည့်အခါ ပြောင်းပေး ခြင်း နှင့်ပတ်သက်၍ ကော်မရှင်နှင့်လျှပ်စစ်စွမ်းအား ဝန်ကြီး ဌာနတို့၏လမ်း ညွှန်မှုကို ခံယူကာလိုက်နာ ဆောင်ရွက်ရန် Built - Own - Operate - Transfer ( BOOT ) - စနစ်ဖြင့် ဆောင်ရွက်ရန်တင်ပြထား ပါသည်။ BOOT စနစ်ဖြင့် ဆောင်ရွက်မည့်စာချုပ်( မူကြမ်း ) နှင့် ငွေနေ ချုပ်ဆိုး ငါသ တောာတား များ တင်ပြလာခြင်း မ ရှိ သေး ပါ။

- ယခုအဆိုပြုလုပ်ငန်း အပါအဝင်တင်ပြထား သော လျှပ်စစ်ဓါတ်အား ဖြန့်ဖြူး ခြင်း လုပ်ငန်း( ၂ ) ခု ရှိပါသည်။

- ပူး တွဲပါဥပ ဒေပုဒ်မ ၁၂ နှင့် ၁၃ အရအခွန် ဆိုင်ရာကင်း လွတ်ခွင့်နှင့်သက်သာခွင့်များ ကို ခံစား ခွင့်ပြုရန် လျှောက်ထား လာပါသည်။

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ ရရှိရေးအတွက် လျှောက်ထားချက်အပေါ် အောက်ပါအတိုင်း သုံးသပ်တင်ပြပါသည်။

- ဥပဒေပုဒ်မ ၁၃ (က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေပမာဏအပေါ် မူတည်၍ ဝင်ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍ ကနဦးရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြ လျက် ကော်မရှင်သို့ လျှောက်ထားလာသည့်အခါ စဉ်းစားခွင့်ပြုနိုင်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဂ) အရ ဝန်ဆောင်မှုလုပ်ငန်း ကြောင့် ပြည်တွင်းပြည်ပ ဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန်သက်သာခွင့်ကို လုပ်ငန်းအကောင်အထည်ဖော်မှုအရ လျှောက်ထားလာသည့်အခါ စဉ်းစားခွင့်ပြုနိုင်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဃ) အရ လုပ်ငန်းမှရရှိသည့် အမြတ်ငွေကို တစ်နှစ်အတွင်း ပြန်လည်ရင်းနှီးမြှုပ်နှံပါက ထိုအမြတ်ငွေအပေါ် ကျသင့်ဝင်ငွေခွန်ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်ကို အမှန်တကယ် ပြန်လည်ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လျှောက်ထားလာပါက ခွင့်ပြုနိုင်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုကို နှင့် မူလတန်ဖိုး ပြည့်မီသည့်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့် ပတ်သက်၍ လျှောက်ထားလာသည့်အခါ ကော်မရှင်မှ သတ်မှတ်သည့်နှုန်း အတိုင်း ခွင့်ပြုနိုင်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလ အတွင်း တင်သွင်းလာသည့် စက်ပစ္စည်းများ အပေါ် အကောက်ခွန်နှင့်အခြားပြည်တွင်း အခွန်အကောက်များကင်းလွတ်ခွင့်ပြု သင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဈ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလကုန်ဆုံး၍ ပထမ (၃) နှစ်အတွက် တင်သွင်းသည့် လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ပြုနိုင်ပါသည်။

ဥ343 / 20/8 င-၂၀၉၁ / ၂၀/၈

အထွေထွေ အရပ်ရပ် – ၁၆

(ရုံးတွင်း စာအကျဉ်းချုပ် (သို့မဟုတ်) စာကြမ်းရေးရန် အတွက်)

အကြောင်းအရာ။ ။ ဘူးဂါး ကုမ္ပဏီလီမိတက်မှ တဘက်ချောင်း ရေအား လျှပ်စစ်စက်ရုံတည်ဆောက်၍ ရေအား လျှပ်စစ်ထုတ်လုပ်ဖြန့်ဖြူးခြင်း လုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော ဘူးဂါး ကုမ္ပဏီလီမိတက် (Bu Ga Co Ltd) သည်လျှပ်စစ် [illegible]အား ဝန်ကြီးဌာနမြန်မာ့လျှပ်စစ်ဓာတ်အား လုပ်ငန်း ကိုယ်စား ကချင်ပြည်နယ်၊ ဝိုင်းမော်မြို့နယ်၊ ဖေ့ခေါ်ကျေးရွာကွင်း အမှတ် OSS ဦးပိုင် အမှတ် N ရှိလန (၃၉) မြေ (၁.၃၃) ဧက (၂၁၅၆၉.၇၆ စတုရန်းမီတာ) ရှိ မြေနေရာတွင် ရေအား လျှပ်စစ်စက်ရုံတည်ဆောက်ပြီး မြစ်ကြီးနားမြို့နှင့် ဝိုင်းမော်မြို့သို့ ရေအား လျှပ်စစ်ထုတ်လုပ်ဖြန့်ဖြူးခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုတင်ပြချက်အား (၂၅-၅-၂၀၀၁) နေ့တွင်ကျင်းပပြုလုပ်သည့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၆/၂၀၀၁) ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခဲ့ပါသည်။

၂။ ကော်မရှင်မှမူအားဖြင့်သဘောတူညီခဲ့ပြီး (၁၁-၇-၂၀၀၁) နေ့တွင်ကျင်းပသောကုန်သွယ်မှုမူဝါဒ ကောင်စီ၏ (၆/၂၀၀၁) ကြိမ်မြောက်အစည်း အဝေးသို့ဆက်လက်တင်ပြခဲ့ပါသည်။ အဆိုပါအစည်းအဝေးမှ သဘောတူညီချက်အရ အစိုးရ အဖွဲ့သို့ဆက်လက်တင်ပြရန်ဆုံးဖြတ်ချက်နှင့်အညီ (၉-၈-၂၀၀၁) နေ့တွင်ကျင်းပပြု လုပ်သည့်ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏ (၃၁/၂၀၀၁) ကြိမ်မြောက် အစည်းအဝေးသို့တင်ပြခဲ့ရာအစည်းအဝေးမှသဘောတူကြောင်းဆုံးဖြတ်ခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၅) ပုဒ်မ ၁၀ နှင့်ယင်း ဥပဒေဆိုင်ရာလုပ်ထုံးလုပ်နည်းများ အခန်း (၄) အပိုဒ် (၁၂) တို့နှင့်အညီဘူးဂါး ကုမ္ပဏီလီမိတက် ( Bu Ga Co., Ltd ) သို့ထုတ်ပေးမည့် ခွင့်ပြုမိန့်နှင့်အမိန့်ကြော်ငြာ ၁၈၁ တွင်လက်မှတ်ရေးထိုးနိုင်ပါရန်ပြုစုတင်ပြအပ်ပါသည်။

၂၀ – ၁ – ၂၀၀၁။

ဥက္ကဋ္ဌ

၂၀.၁.၀၁